အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် MAYLP Agriculture Company Limited မှ Contract Farming စနစ်ဖြင့် စပ်မျိုးစပါးများကို စိုက်ပျိုးခြင်း၊ မျိုးစေ့ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အတည်ပြု လျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ကမကထပြုသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - MAYLP Agriculture Company Limited<br>- ဦးစိုးလင်းထွန်း<br>- ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Mr. Tan Jun (China) ၄၀%<br>ဦးစိုးလင်းထွန်း (မြန်မာ) ၃၀%<br>ဦးမြင့်ကျော်(ခ) မွေဖုလ (မြန်မာ) ၃၀% |
| | လုပ်ငန်းအမျိုးအစား | - Contract Farming စနစ်ဖြင့် စပ်မျိုးစပါးများ စိုက်ပျိုးခြင်း၊ မျိုးစေ့ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်-JW-၀၄၂၊ မြေတိုင်းရပ်ကွက်အမှတ်-၁၂/ ရွှေအင်ကြင်းအနောက်ရပ်၊ ဒက္ခိဏသီရိမြို့နယ်၊ နေပြည်တော် |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း | - ဦးဆော်ရင်ရန့်<br>- စုစုပေါင်း မြေဧရိယာ ၂.၅၀ ဧက(၁၀,၁၁၇.၁၅ စတုရန်းမီတာ) |
| ၄။ | နှစ်စဉ်မြေနှင့်အဆောက်အဦငှားရမ်းခ<br>မြေနှင့်အဆောက်အဦငှားရမ်းကာလ | - ၁၂၀,၀၀၀,၀၀၀ ကျပ်<br>- (တစ်နှစ်တစ်စတုရန်းမီတာလျှင် ၁၁၈၆၁.၀၅ ကျပ်နှုန်း)<br>- ၁၀ နှစ် နှင့် သက်တမ်းတိုး (၁၀+၅) နှစ် |
| ၅။ | လုပ်ငန်းသက်တမ်း<br>တည်ဆောက်ရေးကာလ | - ၁၀ နှစ် နှင့် သက်တမ်းတိုး (၁၀+၅) နှစ်<br>- ၁ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - အမေရိကန်ဒေါ်လာ ၃.၄၂၀ သန်း |

US$(သန်း)

| | ပြည်တွင်း | ပြည်ပ | စုစုပေါင်း |
|---|---|---|---|
| ငွေသား | ၁.၉၆၀ | ၀.၆၈၈ | ၂.၆၄၈ |
| စက်ပစ္စည်း | - | ၀.၆၈၂ | ၀.၆၈၂ |
| ပရိဘောဂ | ၀.၀၉၀ | | ၀.၀၉၀ |
| စုစုပေါင်း | ၂.၀၅၀ | ၁.၃၇၀ | ၃.၄၂၀ |

| | | |
|---|---|---|
| ၇။ | ဝန်ထမ်းအင်အား | - ၅၂ ဦး |
| | ပြည်တွင်း | - ၅၀ ဦး (ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၆၀၀,၀၀၀ ဖြစ်ပါသည်။) |
| | ပြည်ပ | - ၂ ဦး(ပြည်ပဝန်ထမ်းတစ်ဦး၏လစာမှာ US$ ၁,၅၀၀ ဖြစ်ပါသည်။) |
| ၈။ | ရောင်းချမည့်စနစ် | -ပြည်ပ ၈၀ % ၊ ပြည်တွင်း ၂၀ % |
| | နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် | |

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (မက်ထရစ်တန်) | | ရောင်းချမည့် ဈေးနှုန်း (US$/ မက်ထရစ်တန်) |
|---|---|---|---|---|
| | | ပြည်ပ(၈၀%) | ပြည်တွင်း(၂၀%) | |
| (က) | Hybrid Rice Variety New Aye Yar -1 (Long -10) | ၆၄၀ | ၁၆၀ | ၂,၀၀၀ |
| (ခ) | Hybrid Rice Variety New Aye Yar -3 (Long -11) | ၆၄၀ | ၁၆၀ | ၂,၀၀၀ |
| (ဂ) | Hybrid Rice Variety New Aye Yar -2 (Long -12) | ၆၄၀ | ၁၆၀ | ၂,၀၀၀ |
| (ဃ) | SL-8H(ပုလဲသွယ်-၄) | ၆၄၀ | ၁၆၀ | ၂,၀၀၀ |

| | | |
|---|---|---|
| ၉။ | အခြားတင်ပြချက် | -MAYLP Agriculture Company Limited နှင့် ဦးဆော်ရင်ရန့် တို့ကြားချုပ်ဆိုမည့် မြေနှင့် အဆောက်အဦ ငှားရမ်းစာချုပ်(မူကြမ်း)၊ Mr. Tan Jun နှင့် ဦးစိုးလင်းထွန်း၊ ဦးမြင့်ကျော်(ခ)မွေဖုလတို့ အကြား ချုပ်ဆိုမည့် ဖက်စပ်စာချုပ်(မူကြမ်း)တို့အား တင်ပြထားပါ သည်။<br>- စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ မျိုးစေ့လုပ်ငန်းလိုင်စင်၊ မျိုးစေ့အသိအမှတ်ပြုလက်မှတ်၊ မျိုးစေ့တင်သွင်းခွင့်/ တင်ပို့ခွင့်လိုင်စင်များ တင်ပြထား ပါသည်။<br>- ငွေရေးကြေးရေး အထောက်အထားအဖြစ် ဦးစိုးလင်းထွန်း အမည်ဖြင့် ၉-၁၀-၂၀၁၈ ရက်နေ့၌ ရောဝတီဘဏ်တွင် ကျပ် ၆၃,၁၄၆,၆၈၈.၄၅ရှိကြောင်း၊ ဦးမြင့်ကျော်(ခ) မွေဖုလ အမည်ဖြင့် ၇-၁-၂၀၁၉ ရက်နေ့၌ ကမ္ဘောဇဘဏ်တွင် ကျပ် ၇၇,၅၆၄,၀၀၀ ရှိကြောင်း နှင့် Mr. Tan Jun အမည်ဖြင့် |

| | | |
|---|---|---|
| | | ၁၅-၁-၂၀၁၉ ရက်နေ့၌ Agriculture Bank of China တွင် ယွမ် ၉၃၀,၀၉၅.၄၉ ရှိကြောင်း ငွေကြေးအထောက်အထား တင်ပြထားပါသည်။<br>- ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူနှင့် နိုင်ငံကူးလက်မှတ် မိတ္တူများ တင်ပြထားပါသည်။<br>- MAYLP Agriculture Company Limited ၏ ကုမ္ပဏီမှတ်ပုံတင်မိတ္တူ အား တင်ပြထားပါသည်။<br>- MAYLP Agriculture Company Limited မှ မီးဆေးကာကွယ်ရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်၊ ဝန်ထမ်း သက်သာ ချောင်ချိရေး စီမံချက်၊ ဝန်ထမ်းများ၏ ကျန်းမာရေး စောင့်ရှောက်မှု အစီအစဉ် တို့အား တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ISIC-0164 တွင် အကျုံးဝင်ပါသည်။<br>- မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် (၁၅/၂၀၁၇) အပိုဒ်(ဃ)၊ အပိုဒ်ခွဲ(၃)အရ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၏ အတည်ပြုချက် ရယူရခြင်း ဖြစ်ပါသည်။<br>- ကုမ္ပဏီနှင့် တောင်သူလယ်သမားများ ချုပ်ဆိုမည့် လယ်ယာမြေငှားရမ်းခြင်းနှင့် Contract Farming စနစ်ဖြင့် စပ်မျိုးစပါးများကို စိုက်ပျိုးခြင်း၊ မျိုးစေ့ထုတ်လုပ်ပေးသွင်းရန် ကနဦးကတိသဘောတူညီချက်(မူကြမ်း) အား တင်ပြထားပါသည်။<br>- စက်ပစ္စည်းနှင့်စပ်မျိုးစပါးမျိုးစေ့များ ပြည်ပမှ တင်သွင်းမည်ဖြစ်ပါသည်။<br>- ပြည်တွင်းရောင်းဈေးနှုန်းကို အမေရိကန်ဒေါ်လာဖြင့် သတ်မှတ်ထားခြင်းဖြစ်ပြီး ဈေးကွက်အတွင်း ဖြစ်ပေါ်လာသောနေ့စဉ် Exchange rate နှုန်းထားဖြင့်သာ မြန်မာကျပ်ငွေဖြင့် ရောင်းချသွားမည်ဖြစ်ကြောင်းတင်ပြထားပါ သည်။<br>- Contract Farming စနစ်ဖြင့် စပ်မျိုးစပါးများ စိုက်ပျိုးခြင်း၊ မျိုးစေ့ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း၏ လုပ်ငန်းသဘောသဘာဝ ရှင်းလင်းချက်ကိုလည်း တင်ပြထားပါသည်။ |
| ၁၀။ | စိစစ်တင်ပြချက် | |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၂/ အ-၀၃၉ /၂၀၁၉( ၀၅၁ )

ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ဖေဖော်ဝါရီလ ၁၄ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် MAYLP Agriculture Company Limited မှ Contract Farming စနစ်ဖြင့် စပ်မျိုး စပါးများကို စိုက်ပျိုးခြင်း၊ မျိုးစေ့ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ**

၁။ တရုတ်နိုင်ငံသား Mr. Tan Jun မှ (၄၀ %)နှင့် မြန်မာနိုင်ငံသား ဦးစိုးလင်းထွန်း မှ (၃၀%)၊ ဦးမြင့်ကျော်(ခ) မွေဖုလ မှ (၃၀%) အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် MAYLP Agriculture Company Limited တည်ထောင်ပြီး မြေကွက်အမှတ်-JW-၀၄၂၊ မြေတိုင်းရပ်ကွက်အမှတ်-၁၂/ ရွှေအင်ကြင်းအနောက်ရပ်၊ ဒက္ခိဏသီရိမြို့နယ်၊ နေပြည်တော်တွင် Contract Farming စနစ်ဖြင့် စပ်မျိုးစပါးများ စိုက်ပျိုးခြင်း၊ မျိုးစေ့ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အတည်ပြု လျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ MAYLP Agriculture Company Limited နှင့် ဦးဆော်ရင်ရန့် တို့အကြား ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦ ငှားရမ်းစာချုပ်(မူကြမ်း) နှင့် မြေစာရင်းပုံစံ-၁၀၅ တို့အား တင်ပြထားပါသည်။ Mr. Tan Jun၊ ဦးစိုးလင်းထွန်းနှင့် ဦးမြင့်ကျော်(ခ)မွေဖုလတို့ အကြား ချုပ်ဆိုမည့်ဖက်စပ်စာချုပ် (မူကြမ်း)တို့အား တင်ပြထားပါသည်။

၃။ မြေနှင့် အဆောက်အဦငှားရမ်းသက်တမ်းမှာ ကနဦး ၁၀ နှစ် ငှားရမ်းမည်ဖြစ်ပြီး နောက်ထပ် (၁၀+၅)နှစ် သက်တမ်းတိုးမည်ဖြစ်ပါသည်။ စုစုပေါင်းမြေဧရိယာ ၂.၅၀ ဧကအား ငှားရမ်းမည်ဖြစ်ပြီး နှစ်စဉ်မြေနှင့် အဆောက်အဦငှားရမ်းခမှာ တစ်နှစ်တစ်စတုရန်းမီတာလျှင် ၁၁၈၆၁.၀၅ ကျပ်နှုန်း ဖြစ်ပါသည်။ ကုမ္ပဏီအနေဖြင့် တောင်သူလယ်သမားများထံမှ လယ်ယာမြေ(၈၀၀)ဧက ငှားရမ်း ဆောင်ရွက်သွားမည်ဖြစ်ကြောင်းနှင့် Contract Farming စနစ်ဖြင့် စပ်မျိုးစပါးများကို စိုက်ပျိုးခြင်း၊ မျိုးစေ့ထုတ်လုပ် ပေးသွင်းရန် ကနဦးကတိသဘောတူညီချက်(မူကြမ်း)များအား တင်ပြထားပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၁၀ နှစ်နှင့် (၁၀+၅) နှစ်ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ ၁ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၃.၄၂၀သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

US$ (သန်း)

| အကြောင်းအရာ | ပြည်တွင်း | ပြည်ပ | စုစုပေါင်း |
|---|---|---|---|
| ငွေသား | ၁.၉၆၀ | ၀.၆၈၈ | ၂.၆၄၈ |
| စက်ပစ္စည်း | - | ၀.၆၈၂ | ၀.၆၈၂ |
| ပရိဘောဂ | ၀.၀၉၀ | | ၀.၀၉၀ |
| **စုစုပေါင်း** | ၂.၀၅၀ | ၁.၃၇၀ | ၃.၄၂၀ |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၅၀ ဦးနှင့် ပြည်ပဝန်ထမ်း ၂ ဦး စုစု ပေါင်း ဝန်ထမ်းဦးရေ ၅၂ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၆၀၀,၀၀၀ ဖြစ်ပါ သည်။ ပြည်ပ ဝန်ထမ်း တစ်ဦး၏ လစာမှာ အမေရိကန်ဒေါ်လာ ၁,၅၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသော ပစ္စည်းများကို ပြည်ပ(၈၀%)၊ ပြည်တွင်း(၂၀%)ကို နေ့စဉ် နိုင်ငံခြားငွေလဲလှယ်နှုန်းထားအရ ရောင်းချမည်ဖြစ်ပါသည်။ ထုတ်လုပ်မှုအရေအတွက်နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါ သည်-

| စဉ် | ထုတ်လုပ်မည့် ပစ္စည်းအမျိုးအမည် | အရေအတွက် (မက်ထရစ်တန်) | | ရောင်းချမည့်ဈေးနှုန်း (US$/ မက်ထရစ်တန်) |
|---|---|---|---|---|
| | | ပြည်ပ(၈၀%) | ပြည်တွင်း(၂၀%) | |
| (က) | Hybrid Rice Variety New Aye Yar-1(Long-10) | ၆၄၀ | ၁၆၀ | ၂,၀၀၀ |
| (ခ) | Hybrid Rice Variety New Aye Yar-3(Long-11) | ၆၄၀ | ၁၆၀ | ၂,၀၀၀ |
| (ဂ) | Hybrid Rice Variety New Aye Yar-2(Long-12) | ၆၄၀ | ၁၆၀ | ၂,၀၀၀ |
| (ဃ) | SL-8H (ပုလဲသွယ်-၄) | ၆၄၀ | ၁၆၀ | ၂,၀၀၀ |

၈။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြား ထားပါသည်-

(က) **စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန** မှ ကုမ္ပဏီမှဆောင်ရွက်မည့် လုပ်ငန်းအပေါ် ကန့်ကွက်ရန် မရှိကြောင်း သဘောထားပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ-က**

(ခ) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန** မှ ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental-IEE)နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan- EMP) ကို ရေးဆွဲတင်ပြ

ရမည်ဖြစ်ကြောင်း သဘောထားပြန်ကြားထားပါသည်။(IEE, EMP ဆောင်ရွက်ရန် ကုမ္ပဏီသို့ အကြောင်းကြားထားပြီး ဖြစ်ပါသည်။) **နောက်ဆက်တွဲ-ခ**

(ဂ) **နေပြည်တော်ကောင်စီမှ** ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စစ်ဆေးတွေ့ရှိချက်၊ အကြံပြုချက်များအတိုင်း ဆောင်ရွက်ရန်နှင့် စည်းကမ်းချက်များဖြင့် ချမှတ်ပေးသင့်ကြောင်းသဘောထားပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ-ဂ**

၉။ ငွေရေးကြေးရေး အထောက်အထားအဖြစ် ဦးစိုးလင်းထွန်း အမည်ဖြင့် ၉-၁၀-၂၀၁၈ ရက်နေ့၌ မြန်မာနိုင်ငံ ဧရာဝတီဘဏ်တွင် ကျပ် ၆၃,၁၄၆,၆၈၈.၄၅ ရှိကြောင်း၊ ဦးမြင့်ကျော်(ခ)မွေဖုလအမည်ဖြင့် ၇-၁-၂၀၁၉ ရက်နေ့၌ ကမ္ဘောဇဘဏ်တွင် ကျပ် ၇၇,၅၆၄,၀၀၀ ရှိကြောင်းနှင့် Mr. Tan Jun အမည်ဖြင့် ၁၅-၁-၂၀၁၉ ရက်နေ့၌ Agriculture Bank of China တွင် ယွမ် ၉၃၀,၀၉၅.၄၉ ရှိကြောင်း ငွေကြေးအထောက် အထား တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲ မှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) **စက်ရုံ၌** အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေး အစီအစဉ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်း သာယာရေးစီမံချက်၊ ဝန်ထမ်းများ၏ ကျန်းမာရေး စောင့်ရှောက်မှု အစီအစဉ်များကိုလည်း တင်ပြထားပါသည်။

(ဂ) မျိုးစေ့များကို တရုတ်နိုင်ငံနှင့် ဖိလစ်ပိုင်နိုင်ငံတို့မှ တင်သွင်းမည်ဖြစ်ပြီး တရုတ်နိုင်ငံ၊ အာဆီယံနိုင်ငံများနှင့် EU သို့ တင်ပို့ရောင်းချမည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် MAYLP Agriculture Company Limitedမှ Contract Farming စနစ်ဖြင့် စပ်မျိုးစပါးများ စိုက်ပျိုးခြင်း၊ မျိုးစေ့ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

(ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ-က

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ စမက(၃) ၇၀၀၁၂ (၁၆၂ /၂၀၁၉)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဖေဖော်ဝါရီလ ၄ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **MAYLP Co., Ltd. မှ ဆောင်ရွက်မည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂-၁-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၂/ အ-၀၃၉/ ၂၀၁၉ (၀၂၇)

၁။ MAYLP Co., Ltd. မှ မြေကွက်အမှတ်-JW-၀၄၂၊ မြေတိုင်းရပ်ကွက် အမှတ်-၁၂/ ရွှေအင်ကြင်းအနောက်ရပ်၊ ဒက္ခိဏသီရိမြို့နယ်၊ နေပြည်တော်တွင် Contract Farming စနစ်ဖြင့် စပ်မျိုးစပါးများ စိုက်ပျိုးခြင်း၊ မျိုးစေ့ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်မည့်ကိစ္စနှင့်စပ်လျဉ်း၍ ရည်ညွှန်းချက်ပါစာဖြင့် သဘောထားမှတ်ချက်တောင်းခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန အနေဖြင့် ကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းအပေါ် ကန့်ကွက်ရန် မရှိသော်လည်း မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လယ်မြေငှားရမ်းခြင်းနှင့် စပ်မျိုးစပါးစိုက်ပျိုးပေးသွင်းရန် ကနဦး သဘောတူညီချက်ရယူထားသော မူလတောင်သူများ၊ ပုံစံ (၇) များပါ လယ်ယာမြေဧရိယာ ဧက (၈၀၀) အား ငှားရမ်းထားကြောင်း စိစစ်တွေ့ရှိရပါသဖြင့် လက်ရှိအခြေအနေတွင် ၂၀၁၂ ခုနှစ်၊ လယ်ယာမြေဥပဒေကို ပြင်ဆင်နေဆဲကာလဖြစ်၍ ငှားရမ်းခြင်းကိစ္စအား အတည်ပြုဆောင်ရွက်ပေးရန် လောလောဆယ်မရရှိနိုင်သေးပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

4.2.19

ဒုတိယဝန်ကြီး(ကိုယ်စား)
(မျိုးတင့်ထွန်း၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ စိုက်ပျိုးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာန
ရုံးလက်ခံ/မျှောစာတွဲ

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၀၉/၁၉)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဇန်နဝါရီလ ၃၁ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **MAYLP Agriculture Company Limited မှ Contract Farming စနစ်ဖြင့် စပ်မျိုးစပါးများ စိုက်ပျိုးခြင်း၊ မျိုးစေ့ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂-၁-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၂/ အ-၀၃၉/ ၂၀၁၉(၀၂၄)

၁။ MAYLP Agriculture Company Limited မှ မြေကွက်အမှတ်- JW(၀၄၂)၊ မြေတိုင်းရပ်ကွက်အမှတ်- ၁၂/ရွှေအင်ပြင်းအနောက်ရပ်၊ ဒက္ခိဏသီရိမြို့နယ်၊ နေပြည်တော်တွင် Contract Farming စနစ်ဖြင့် စပ်မျိုးစပါးများ စိုက်ပျိုးခြင်း၊ မျိုးစေ့ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၁၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၁) ကြိမ်နှင့် (၅) နှစ် (၁) ကြိမ်ဆောင်ရွက်မည်ဖြစ်ပြီး၊ တည်ဆောက်ရေးကာလမှာ (၁) နှစ် ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအားမြေ မြေတိုင်းရပ်ကွက်အမှတ်- ၁၂/ရွှေအင်ပြင်းအနောက်ရပ်၊ ဒက္ခိဏသီရိမြို့နယ်ရှိ မြေ ၂.၅၀ ဧက (၁၀,၁၁၇.၁၅ စတုရန်းမီတာ) တွင် (၁၃,၆၈၀ စတုရန်းမီတာ) ရှိအဆောက်အဦး (၁) လုံးတည်ဆောက်ကာ စိုက်ပျိုးထွက်ရှိလာသည့် မျိုးစပါးများကိုနေလှမ်းခြင်း၊ အခြောက်ခံခြင်း၊ သန့်စင်ခြင်း၊ ထုပ်ပိုးခြင်းများဆောင်ရွက်ကာ ထုတ်လုပ်မှု၏ ၈၀% ကို ပြည်ပနှင့် ၂၀% ကို ပြည်တွင်းသို့ ရောင်းချသွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းအတွက် လိုအပ်သည့် မျိုးစပါးဖြစ်သည့် Hybrid Rice Variety New Aye Yar- 1, 2, 3 နှင့် SL-8H တို့အား (၁) မျိုးလျှင် ဧက (၂၀၀) ခန့်၊ စုစုပေါင်း ဧက (၈၀၀) နှင့် Contract Farming စနစ်ဖြင့် ဧက (၂၀၀) ကနဦးစိုက်ပျိုးရန် လျာထားပြီး လုပ်ငန်းအောင်မြင်မှုအပေါ် မူတည်၍ ထပ်မံတိုးချဲ့စိုက်ပျိုး သွားမည်ဖြစ်ကြောင်း၊

(ဃ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန မှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) MAYLP Agriculture Company Limited မှ Contract Farming စနစ်ဖြင့် စပ်မျိုးစပါးများ စိုက်ပျိုးခြင်း၊ မျိုးစေ့ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် လိုအပ်သောအဆောက်အဦများ တည်ဆောက်ရာ၌မြေပြုပြင်ခြင်းနှင့် ဆောက်လုပ်ရေးလုပ်ငန်းခွင်မှ ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ တုန်ခါမှုများ၊ လုပ်ငန်းသုံး ယာဉ်/ယန္တရားများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် အနီးပတ်ဝန်းကျင်ရှိ လေထု၊ မြေထုနှင့် ရေထုညစ်ညမ်းမှု ဖြစ်ပေါ် စေနိုင်ခြင်း၊

(ခ) တည်ဆောက်လုပ်ငန်းသုံးနှင့် လုပ်ငန်းခွင့်သုံး ယာဉ်ယန္တယားများ၊ သယ်ယူပို့ဆောင်ရေးယာဉ်များနှင့် စက်ပစ္စည်းများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထုနှင့် လေထုညစ် ညမ်းခြင်း၊

(ဂ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ဃ) လုပ်ငန်းဆောင်ရွက်ရာတွင် အသုံးပြုမည့် ဓာတ်မြေဩဇာ၊ ပိုးသတ်ဆေး၊ ပေါင်းသတ်ဆေးစသည်တို့ကို စနစ်တကျ အသုံးပြုခြင်းမရှိပါက အဆိုပါပစ္စည်းများ၏ ဓာတ်ကြွင်းများကြောင့် ပတ်ဝန်းကျင်ရှိ လေထု၊ မြေထု၊ ရေထုနှင့် ပြည်သူများ၏ ကျန်းမာရေးကို ထိခိုက်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင် ဆိုင်ရာထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ MAYLP Agriculture Company Limited မှ Contract Farming စနစ်ဖြင့်စပ်မျိုးစပါးများ စိုက်ပျိုးခြင်း၊ မျိုးစေ့ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန် ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများ ကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ ကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့်နည်းစနစ်များ အားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင် ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကိုတိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးအတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environ-**

**mental Examination - IEE)** ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များပါအတိုင်း အစီရင်ခံစာရေးသားတင်ပြရန်၊

(ဂ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP)** အား ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့်စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီစဉ်များ၊ အစီရင်ခံစာများ ရေးသားပြုစုရာတွင်ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ နေပြည်တော်ကောင်စီ၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင် (ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ နေပြည်တော်ကောင်စီနယ်မြေ
ရုံးလက်ခံ

နောက်ဆက်တွဲ- ဂ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
နေပြည်တော်ကောင်စီ

စာအမှတ်၊ ၇ / ၁ - ၁၀ (၀၇၂၈) / ဦး ၆
ရက် စွဲ ၊ ၂၀၁၉ ခုနှစ်၊ ဖေဖော်ဝါရီလ ၇ ရက်

သို့

 ^ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂-၁-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၂/အ-၀၃၉/၂၀၁၉(၀၂၆)

ဒက္ခိဏသီရိမြို့နယ်၊ မြေတိုင်းရပ်ကွက်၊ ရွှေအင်ကြင်းအနောက်ရပ်၊ မြေတိုင်းရပ်ကွက် အမှတ်-၁၂၊ မြေကွက်အမှတ် (JW-၀၄၂) တွင် MAYLP Agriculture Company Limited မှ Contract Farming စနစ်ဖြင့် စပ်မျိုးစပါးများစိုက်ပျိုးခြင်း၊ မျိုးစေ့ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုနှင့် ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် မေတ္တာရပ်ခံလာမှု အပေါ် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စစ်ဆေးတွေ့ရှိချက်၊ အကြံပြုချက်များအတိုင်း ဆောင်ရွက်ရန်နှင့် စည်းကမ်းချက်ဖြင့် ချမှတ်ပေးသင့်ကြောင်း ပြန်ကြားအပ်ပါသည်။

ဥက္ကဋ္ဌ ( )
( စိုင်းသော်ဝင်း၊ အတွင်းရေးမှူး )

မိတ္တူကို

ဦးအောင်မြင်ထွန်း၊ ကောင်စီဝင်၊ နေပြည်တော်ကောင်စီ
လှည့်လည်စာတွဲ
ရုံးလက်ခံ

Aung thu (366) (5)

